## Myat Min Company Limited မှမရမ်းကုန်းမြို့နယ်တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၀-၉-၂၀၁၅ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၁၆-၉-၂၀၁၅ | ၁၉-၁၀-၂၀၁၅ | ( ၃၄ ) ရက် |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန | ၁၆-၉-၂၀၁၅ | ၂-၁၀-၂၀၁၅ | ( ၁၇ ) ရက် |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီး ဌာန | ၁၆-၉-၂၀၁၅ | ၈-၁၀-၂၀၁၅ | ( ၂၃ ) ရက် |
| | (ဃ) အထပ်မြင့် အဆောက်အဦ တည်ဆောက်ရေး စီမံကိန်းများကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ (CQHP) | ၁၆-၉-၂၀၁၅ | ၆-၁၀-၂၀၁၅<br>၁၅-၁၀-၂၀၁၅ | ( ၃၀ ) ရက် |
| | (င) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၆-၉-၂၀၁၅ | - | - |
| ၃။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး(၃၄/၂၀၁၅) သို့ တင်ပြခြင်း | ၂၁-၉-၂၀၁၅ | | |
| ၄။ | အဆိုပြုချက်လက်ခံကြောင်း ပြန်ကြားခြင်းနှင့် အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး (၃၄/၂၀၁၅) ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် အကြောင်းကြား ခြင်း | ၂၉ -၉-၂၀၁၅ | ၂-၁၀-၂၀၁၅ | |
| ၅။ | ကုမ္ပဏီမှသဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | - | - | |
| ၆။ | ကုမ္ပဏီမှအဆိုပြုလွှာ(၈)စုံ ပေးပို့ခြင်း | | ၂၉-၁၀-၂၀၁၅ | |
| ၇။ | ကော်မရှင် အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/ နေ့ရက် | (၁၉/၂၀၁၅)<br>၃၀-၁၀-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၈)ရက်** | | |

ကန့်သတ်

## Myat Min Company Limited မှမရမ်းကုန်းမြို့နယ်တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>လုပ်ငန်းအဆိုပြုသူအမည်<br>အဖွဲ့အစည်းပုံသဏ္ဌာန်<br>အဆိုပြုလုပ်ငန်းအမျိုးအစား<br>လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း<br><br><br><br><br><br>မြေအကျယ်အဝန်း<br>မြေပိုင်ရှင် | - Myat Min Company Limited<br>- ဦးလှဝေ<br>- လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။)<br>- နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း<br>- ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊(၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် (၁၀)၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ် ၃/က ရှိ မြေ (၁.၅၀၂)ဧက နှင့် မြေကွက်အမှတ် ၂/က၂ ရှိ မြေ(၀.၂၇၅) ဧက၊ မြေကွက်အမှတ် ၂/က၁ ရှိ မြေ (၁.၄၂၉) ဧက၊ စုစုပေါင်း မြေ(၃.၂၀၆)ဧက အနက် မြေ (၂.၂၀၆) ဧက<br>- မြေ (၂.၂၀၆)ဧက<br>- ဦးလှဝေ |
| ၂။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၃၀)နှစ် |
| ၃။ | တည်ဆောက်ရေးကာလ | - ၃ နှစ် |
| ၄။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>- ငွေသား<br>- အဆောက်အဦ<br>- စက်ပစ္စည်းကိရိယာများ<br>- လုပ်ငန်းသုံးပစ္စည်းများ | - **ကျပ် ၇၉၀၀၀ .၀၀ သန်း (US$ ၅၂.၂၀ သန်း အပါအဝင်)**<br>- ကျပ် ၃၆၂ .၇၄ သန်း<br>- ကျပ် ၆၁၄၀၅ .၃၆ သန်း (US$ ၃၇.၈၄ သန်း အပါအဝင်)<br>- ကျပ် ၅၆၃၄ .၀၃ သန်း (US$ ၄.၆၉ သန်း အပါအဝင်)<br>- ကျပ် ၁၁၅၉၇ .၈၇ သန်း (US$ ၉.၆၇ သန်း အပါအဝင်) |
| ၅။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | |

| စဉ် | အမျိုးအစား | အခန်းအရေအတွက် (ခန်း) | ဝန်ဆောင်မှုပေးမည့် အခန်း (Occupancy Rate %) | ငှားရမ်းခ ရငွေ US$ |
|---|---|---|---|---|
| (က) | Standard Room | ၃၀၇ | ၆၈ | ၁၂၀ |
| (ခ) | Suite Room | ၁၅ | ၅၅ | ၂၀၀ |
| | **စုစုပေါင်း** | ၃၂၂ | | |

| | | |
|---|---|---|
| ၆။ | ဝင်ငွေ<br>(၆ နှစ်မြောက်)ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။ | - US$ ၁၂.၄၄ သန်း |
| ၇။ | အသားတင်အမြတ်<br>(၆ နှစ်မြောက်) | - ကျပ် ၄၉၀၂.၀၁ သန်း |

ကန့်သတ်

PULLMAN Brief INV-3

| | | |
|---|---|---|
| ၈။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၆၃၄.၀၀ သန်း<br>- US$ ၀.၆၂ သန်း |
| ၉။ | အရင်းကြေကာလ | - (၁၀)နှစ် (၁)လ |
| ၁၀။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၉.၈၇ % |
| ၁၁။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br>ပြည်ပ | - ၂၀၅ ဦး<br>- ၁၉၂ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သား တစ်ဦး ၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။<br>- ၁၃ ဦး (တစ်လလျှင် ပြည်ပ လုပ်သား တစ်ဦး ၏ အနိမ့်ဆုံး လစာမှာ US$ ၄၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁၀၀၀၀ ဖြစ်ပါသည်။) |
| ၁၂။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - Corporate Social Responsibility (CSR) လုပ်ငန်းများ အတွက် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ် နှင့် အကူအညီများ ရယူပြီး ဆောင်ရွက်သွား မည်ဖြစ်ပါသည်။ Corporate Social Responsibility (CSR) လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် နှစ်စဉ် အသားတင် အမြတ်ငွေအပေါ် (၁%) သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် အတွက် ကြိုတင် ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓါတ်အား | - လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသွားမည် ဖြစ်ပြီးအရေးပေါ် လိုအပ်ချက်အတွက်1250KVA Generator ကို အရန် အဖြစ်ထားရှိ ဆောင်ရွက်သွားပါမည်။ လိုအပ်သော လျှပ်စစ်ဓါတ်အား Capacity မှ 3750 KVA အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | ငွေကြေးအထောက်အထား | - ကျပ်ငွေအထောက်အထားအဖြစ် Myat Min Co., Ltd. အမည် ဖြင့် MYAWADDY BANK LIMITED တွင် (၄-၉-၂၀၁၅) ရက်စွဲဖြင့်ငွေလက်ကျန်ကျပ် ၁,၅၀၀,၁၀၀,၈၇၅ နှင့် KBZ Bank (Kamayut Branch) တွင် (၄-၉-၂၀၁၅) ရက်စွဲဖြင့် ငွေလက် ကျန် ကျပ် ၂,၈၆၅.၆၅၀,၀၀၀ ၊ စုစုပေါင်း ကျပ် ၄၃၆၅.၇၅ သန်း ရှိကြောင်း ဖော်ပြထားပါသည်။<br>- နိုင်ငံခြားငွေအထောက်အထားအဖြစ် Myat Min Co., Ltd. အမည်ဖြင့် KBZ Bank ( Kyauktada Branch ) တွင် (၄-၉-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၄၂၈,၆၄၂.၇၀ ရှိကြောင်း ဖော်ပြထားပါသည်။ |

| ၁၇။ | စိစစ်တင်ပြချက် | (က) Car parking အဖြစ် Basement တွင် ၂၂၄ စီး၊ Ground Floor တွင် ၁၅၃ စီး၊ ပထမထပ်တွင် ၁၁၄ စီး၊ ဒုတိယ ထပ်တွင် ၅၂ စီး၊ စုစုပေါင်း (၅၄၃)စီး ရပ်နားနိုင်ရန် စီစဉ်ဆောင်ရွက်ထားကြောင်း တင်ပြထားပါသည်။<br>(ခ) ကုမ္ပဏီမှ ၃၄၀ စတုရန်းမီတာရှိသောရေကူးကန်(၁)ခုအား ပထမထပ်တွင်ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(ဂ) မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ သဘောထားမှတ်ချက် ပြန်ကြားလာခြင်း မရှိသေးပါ။<br>(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း မှ သဘောထား ပြန်ကြားလာပါက မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း ၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၂၇-၁၀-၂၀၁၅ ရက်စွဲပါ စာဖြင့် ကုမ္ပဏီမှ ဝန်ခံကတိပြု တင်ပြထားပါသည်။<br>(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း မှ သဘောထား ပြန်ကြားလာပါက မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ သဘောထား မှတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြင်ဆင် တင်ပြပြီး မှသာ ကုမ္ပဏီအား ခွင့်ပြုမိန့် ထုတ်ပေးရန်အပေါ် လမ်းညွှန်မှုခံယူ အပ်ပါသည်။<br>(စ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း စာရင်းတွင် အောက်ပါ မော်တော်ယာဥ် (၁၁)စီး အနက် လူစီးယာဥ်(၉)စီး ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်- |

| ယာဥ် အမျိုးအစား | အရေအတွက် | စျေးနှုန်း US$ | စုစုပေါင်း US$ |
|---|---|---|---|
| Touring Bus (45) Seaters | ၁ | ၁၇၀,၀၀၀ | ၁၇၀,၀၀၀ |
| Mercedes (E-Class 200) | ၃ | ၁၆၀,၀၀၀ | ၄၈၀,၀၀၀ |
| Mercedes (S-Class 500) | ၁ | ၃၄၀,၀၀၀ | ၃၄၀,၀၀၀ |
| Toyota Camry | ၁ | ၁၅,၀၀၀ | ၁၅,၀၀၀ |
| Toyota Alphard | ၁ | ၃၅,၀၀၀ | ၃၅,၀၀၀ |
| Dump Truck 10-20 | ၂ | ၈၀,၀၀၀ | ၁၆၀,၀၀၀ |
| City Bus (25 Seater)for Ferry | ၂ | ၈၀,၀၀၀ | ၁၆၀,၀၀၀ |
| **စုစုပေါင်း** | **၁၁** | **၈၈၀,၀၀၀** | **၁,၃၆၀,၀၀၀** |

- အထက်ပါ လူစီးယာဥ် (၉)စီးအားပြည်ပမှ အခွန် အကောက်ပေးဆောင်၍ တင်သွင်းရမည်ဖြစ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက- ၄/မ-၁၄၉၇/၂၀၁၅( ၈၄၂ )
ရက်စွဲ၊၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Myat Min Company Limited မှ မရမ်းကုန်းမြို့နယ်တွင် Basement နှင့် အထပ်(၁၉)ထပ် ရှိ အခန်း(၃၂၂)ခန်းပါ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Myat Min Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)၊ အုတ်ပုံ ဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၀)၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ် ၃/က ရှိ မြေ (၁.၅၀၂)ဧက နှင့် မြေကွက် အမှတ် ၂/က^၂ ရှိ မြေ (၀.၂၇၅) ဧက၊ မြေကွက် အမှတ်၂/က^၁ ရှိ မြေ (၁.၄၂၉)ဧက ၊ စုစုပေါင်း မြေ(၃.၂၀၆)ဧက အနက် မြေ(၂.၂၀၆) ဧက တွင် Basement နှင့် အထပ် (၁၉)ထပ်ရှိ အခန်း(၃၂၂)ခန်းပါ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးလှဝေ မှ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ (၃၀) နှစ် နှင့် တည်ဆောက်ရေးကာလ မှာ (၃)နှစ် ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ ၅၂.၂၀ သန်း အပါအဝင် စုစုပေါင်း ကျပ်သန်း ၇၉၀၀၀.၀၀ ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု ထည့်ဝင်မှု အမျိုးအစားမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ပမာဏ** | **ကျပ်** | **၇၉၀၀၀.၀၀** | **သန်း (US$ ၅၂.၂၀ သန်း အပါအဝင်)** |
|---|---|---|---|
| (က) ငွေသား | ကျပ် | ၃၆၂.၇၄ | သန်း |
| (ခ) အဆောက်အဦ | ကျပ် | ၆၁၄၀၅.၃၆ | သန်း (US$ ၃၇.၈၄ သန်း အပါအဝင်) |
| (ဂ) စက်ပစ္စည်းကိရိယာများ | ကျပ် | ၅၆၃၄.၀၃ | သန်း (US$ ၄.၆၉ သန်း အပါအဝင်) |
| (ဃ) လုပ်ငန်းသုံးပစ္စည်းများ | ကျပ် | ၁၁၅၉၇.၈၇ | သန်း (US$ ၉.၆၇ သန်း အပါအဝင်) |

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၂၀၅)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။ ပြည်တွင်းဝန်ထမ်း(၁၉၂)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၁၅၀၀၀၀)ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် (၆၀၀၀၀၀)ဖြစ်ပြီး ပြည်ပဝန်ထမ်း (၁၃) ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၄၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ US$ ၁၀၀၀၀ ဖြစ်ပါသည်။

| | |
|---|---|
| ကုမ္ပဏီအမည် | - Myat Min Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ( Private Company) ဖြစ်ပါသည်။ |
| လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊အမှတ်(၃)၊ အုတ်ပုံ ဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ် (၁၀)၊ ကံဘဲ့ ရပ်ကွက်၊ မြေကွက် အမှတ် ၃/က ရှိ မြေ (၁.၅၀၂)ဧက နှင့် မြေကွက်အမှတ် ၂/က² ရှိ မြေ (၀.၂၇၅) ဧက၊ မြေကွက်အမှတ် ၂/က¹ ရှိ မြေ (၁.၄၂၉) ဧက၊ စုစုပေါင်း မြေ(၃.၂၀၆)ဧက အနက် မြေ (၂.၂၀၆) ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၇၉၀၀၀.၀၀ သန်း (US$ ၅၂.၂၀ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - (၃၀) နှစ် |
| အရင်းကြေကာလ | - (၁၀)နှစ်၊(၁)လ |
| IRR | - ၉.၈၇ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြ အပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်ခွန်ကင်းလွတ်ခွင့် | - | ၀.၀၆ |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၅၂၄.၁၁ |
| ၅ | ဝင်ငွေခွန် | ၅၈၁၇.၁၆ | ၁၃၅၃၃.၇၉ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၈၉.၆၇ |
| ၇ | CSR (၁ %) | - | ၄၀၆.၀၁ |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | (၂၀၅)ဦး<br>ပြည်တွင်း(၁၉၂)ဦးနှင့်ပြည်ပ(၁၃)ဦး<br>ပြည်တွင်းလုပ်သား(၁၉၂)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ကို အထောက် အကူပြုစေပါသည်၊ |
| | **စုစုပေါင်း** | **ကျပ် ၅၈၁၉.၃၂ သန်း** | **ကျပ် ၁၉၅၅၄.၈၀ သန်း** |
| | **Cost : Benefit** | ၁:၃ | |

၅။ အဆိုပြုလုပ်ငန်း၏ (၅)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်မှု ပေးမည့် အခန်း (Occupancy Rate %) | ငှားရမ်းခ ရငွေ US$ |
|---|---|---|---|---|
| (က) | Standard Room | ၃၀၇ | ၆၈ | ၁၂၀ |
| (ခ) | Suite Room | ၁၅ | ၅၅ | ၂၀၀ |
| | စုစုပေါင်း | ၃၂၂ | | |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ= ၁၂၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | - | ၁၂.၄၄ | ၁၄၉၂၈.၀၀ | ၁၄၉၂၈.၀၀ |
| (ခ) | အသုံးစရိတ် | ၈၇၄၁.၉၉ | ၁.၀၇ | ၁၂၈၄.၀၀ | ၁၀၀၂၅.၉၉ |
| (ဂ) | အသားတင်အမြတ် | (-) ၈၇၄၁.၉၉ | ၁၁.၃၇ | ၁၃၆၄၄.၀၀ | ၄၉၀၂.၀၁ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၆၁၄.၁၁ သန်းနှင့်ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၆၂ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏အရင်းကြေ ကာလမှာ(၁၀)နှစ်၊(၁)လဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR)မှာ ၉.၈၇ ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ။

(၂) အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက တည်ဆောက်ရေးကာလတွင် အခြေခံ လုပ်သား (၂၀၀၀) ဦး ခန့်၊ စီမံခန့်ခွဲရေး ဝန်ထမ်း(၁၀၀)ဦးခန့်နှင့် Operation ကာလတွင် အခြေခံ ဝန်ထမ်း(၃၀၀)ဦး ခန့်၊ ကျွမ်းကျင်အဆင့်ပြည်တွင်း(၁၉၂)ဦး၊ ပြည်ပ (၁၃)ဦး စုစုပေါင်း (၂၀၅)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း။

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ် (၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မြေတိုင်း ရပ်ကွက် အမှတ် (၁၀)၊ ကံဘဲ့

ရပ်ကွက်၊ မြေကွက်အမှတ် ၃/က ရှိ မြေ (၁.၅၀၂)ဧက နှင့်မြေကွက်အမှတ် ၂/က^၂ ရှိ မြေ (၀.၂၇၅) ဧက၊ မြေကွက် အမှတ်၂/က^၁ ရှိ မြေ (၁.၄၂၉) ဧက ၊ စုစုပေါင်း မြေ(၃.၂၀၆)ဧက အနက် မြေ(၂.၂၀၆) ဧက ရှိ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှု မရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း။

(၅) ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ အစည်းအဝေးအမှတ်စဉ် ၄၉/၂၀၁၅ ဆုံးဖြတ်ချက်အပိုဒ် (၄၂)အရ Myat Min Co., Ltd.၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အပေါ် ခွင့်ပြုသင့်ပါကြောင်း ထောက်ခံပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုနှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ဆောင်ရွက်ရန်နှင့် EIA အစီရင်ခံစာ တင်ပြရန်။

(၂) စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP)များ ရေးဆွဲတင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) အဆိုပြုလွှာတွင်ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility-CSR) လုပ်ငန်းများအတွက် နှစ်စဉ်အသားတင် အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လုပ်ငန်း စီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား Third party ဖြစ်သည့် NeoTech Myanmar Co., Ltd. တွင် စတင်ဆောင်ရွက်နေပြီ ဖြစ်ကြောင်း ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၅ ရက်နေ့ ရက်စွဲပါစာဖြင့် ကုမ္ပဏီမှ တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) လက်ရှိ အခြေအနေတွင်ကမ္ဘာလှည့်ခရီးသည်များ အပါအဝင်နိုင်ငံခြားခရီးသည်များ ၏လေကြောင်း၊ရေကြောင်းဖြင့်အဓိကဝင်ထွက်ရာဒေသဖြစ်ခြင်းကြောင့် Myat Min Co., Ltd. မှ Pullman Yangon Hotel အမည်ဖြင့်အခန်း(၃၂၂)ခန်းပါနိုင်ငံတကာ အဆင့်မီ ဟိုတယ်လုပ်ငန်း တည်ဆောက် အကောင်အထည်ဖော် ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းသည် ခရီးသွားလုပ်ငန်းကို အထောက်အကူပြုသည့် စီမံကိန်း တစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည် ရောက်ရှိမှု၊ ပြည်တွင်းခရီး ဧည့်သည် တည်းခိုမှုနှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ ဖွံ့ဖြိုးမှုတို့သည် အချိုးညီရန် လိုအပ်ပါကြောင်း။

(၂) Myat Min Co., Ltd. မှ ဟိုတယ်တည်ဆောက်မည့် မြေနေရာသည် (၃.၂၀၆) ဧက ဟု ဖော်ပြထားသော်လည်း အမှန်တကယ် ဆောက်လုပ်မည့် မြေဧက (၂.၂၀၆)ဧက သာ ရှိသဖြင့် ကျန်ရှိမည့် မြေ(၁)ဧကနှင့် ပတ်သက်၍ မည်သို့ ဆောင်ရွက်မည်ကို ရှင်းလင်းစွာ တင်ပြရန် လိုအပ်ပါကြောင်း။

(၃) Myat Min Co., Ltd. မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Standard Room အခန်း(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၂၀)၊ Suite Room အခန်း(၁) ခန်းလျှင် အမေရိကန်ဒေါ်လာ(၂၀၀)စသည်ဖြင့်နှုန်းများသတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းခ နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန် သင့်တင့်ရန်လိုအပ်ပါကြောင်း။

(၄) ကုမ္ပဏီမှ တည်ဆောက်မည့် အဆောက်အဦသည် Basement နှင့် (၁၉)ထပ် အဆောက်အဦဖြစ်သဖြင့် အထပ်မြင့်တည်ဆောက်ခြင်းနှင့်ပတ်သက်၍ ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့နှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ၊ အထပ်မြင့် အဆောက်အဦ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ (CQHP)တို့၏ စိစစ်ခွင့်ပြုချက် တို့ ရယူဆောင်ရွက် သွားရန် လိုအပ်ပါကြောင်း ။

(၅) ယာဉ်ရပ်နားရန် နေရာနှင့် ပတ်သက်၍ Basement တွင် (၂၂၄)စီး၊ Groung Floor တွင် (၁၅၃)စီး၊ ပထမထပ်တွင် (၁၁၄)စီး၊ ဒုတိယထပ်တွင် (၅၂)စီး စုစုပေါင်း (၅၄၃)စီး ရပ်နားနိုင်ရန် ဆောင်ရွက်ထားရှိပါကြောင်း တင်ပြထားပါသဖြင့် တင်ပြ ချက် နှင့်အညီ ဆောင်ရွက်သွားလိုအပ်ပါကြောင်း ။

(၆) Myat Min Co., Ltd. မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် အသုံးပြုသွားမည့် ပြည်ပမှ တင်သွင်းမည့် တည်ဆောက်ရေး ပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာ ရယူရမည်ဖြစ်ပါကြောင်း။

(၇) Myat Min Co., Ltd. မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ် တည်ဆောက်ရေးအခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာအမိန့်များတွင် ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံ လိုအပ်ချက် စံနှုန်းများ (Basic Requirements and Criteria ) ထက်မနိမ့်ကျ စေရေးတွက် အဆိုပါ ဥပဒေ၊ အမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွား လိုအပ်ပါကြောင်း ။

(ဃ) **အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင် အဖွဲ့(CQHP)** **(နောက်ဆက်တွဲ-ဃ)**

(၁) အဆိုပြု စီမံကိန်းနှင့် ပတ်သက်၍ ဗိသုကာ ဆိုင်ရာ ဒီဇိုင်းလိုအပ်ချက် များကို CQHP ၏ Guideline နှင့်အညီ ပြန်လည်ပြင်ဆင်ထားရာ FAR နှင့် Population Density ကိုက်ညီမှု ရှိကြောင်း တွေ့ရှိရပါသဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း။

**(၂) သို့သော် BCR မှာ ၀.၆၆ရှိနေ၍ အနည်းငယ်များသည်ဟု သုံးသပ်မိပါကြောင်း။**

(င) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း ။** မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါစာဖြင့် သဘောထား မှတ်ချက်တောင်းခံထားဆဲ ဖြစ်ပါသည်။ **(နောက်ဆက်တွဲ-င)**

၉။ ကျပ်ငွေအထောက်အထားအဖြစ် Myat Min Co., Ltd. အမည် ဖြင့် MYAWADDY BANK LIMITED တွင် (၄-၉-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန်ကျပ် ၁,၅၀၀,၁၀၀,၈၇၅ နှင့် KBZ Bank (Kamayut Branch) တွင် (၄-၉-၂၀၁၅) ရက်စွဲဖြင့် ငွေလက် ကျန် ကျပ် ၂,၈၆၅.၆၅၀,၀၀၀ ၊ စုစုပေါင်း ကျပ် ၄၃၆၅.၇၅ သန်း ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ နိုင်ငံခြားငွေအထောက်အထားအဖြစ် Myat Min Co., Ltd. အမည်ဖြင့် KBZ Bank (Kyauktada Branch) တွင် (၄-၉-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၄၂၈,၆၄၂.၇၀ ရှိ ကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၁ ရာခိုင်နှုန်း သုံးစွဲမည် ဖြစ်ပြီး Corporate Social Responsibility (CSR) လုပ်ငန်းများအတွက် ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်နှင့် အကူအညီများ ရယူပြီး ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဝန်ထမ်းများအား လိုအပ်သော သင်တန်းများပေးခြင်းနှင့် သင်တန်းသို့စေလွှတ်ပေးခြင်း၊ လုပ်ငန်းခွင်သာယာ သန့်ရှင်းစေရေးအတွက် လိုအပ်သောအစီအမံများဆောင်ရွက်ပေးခြင်း၊ ကျန်းမာရေးအတွက် ပုံမှန်ဆေးစစ်ပေးခြင်း၊ ဝန်ထမ်းများ၏ သာရေးနာရေး ထောက်ပံ့ငွေများကိုလည်းထောက်ပံ့ပေးခြင်း၊ အရေးပေါ် လိုအပ်ငွေများအတွက် ထုတ်ချေးငွေများကို အတိုးမဲ့(သို့မဟုတ်) အတိုးနှုန်း နည်းနည်းဖြင့် ထုတ်ချေးပေးခြင်း၊ ဆုကြေးငွေများနှင့် အပိုဆောင်းငွေများကို သတ်မှတ်ချက်များနှင့်အညီ အချိန်မှန် ထုတ်ပေးခြင်းတို့ကို စီစဉ်ဆောင်ရွက်ပေးမည် ဖြစ်ပါကြောင်းတင်ပြထားပါသည်။

၁၃။ လုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော လျှပ်စစ်ဓါတ်အားကို အဓိက မဟာလျှပ်စစ်ဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး အရေးပေါ် လိုအချက်အတွက် 1250 KVA Generator များကို အရန်အဖြစ် ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် လိုအပ်သောလျှပ်စစ်ဓါတ်အား Capacity မှာ 3750 KVA ဖြစ်ပါ ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက် လုပ်ငန်းနှင့် စပ်လျဥ်း၍ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၂၁ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၄/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြပြီး ဖြစ်ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်များကိုကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) Car parking အဖြစ် Basement တွင် ၂၂၄ စီး၊ Ground Floor တွင် ၁၅၃ စီး၊ ပထမထပ်တွင် ၁၁၄ စီး၊ ဒုတိယထပ်တွင် ၅၂ စီး၊ စုစု ပေါင်း (၅၄၃)စီး ရပ်နားနိုင်ရန် ဆောင်ရွက်ထားရှိပါကြောင်း တင်ပြထားပါသည်။

(ခ) ကုမ္ပဏီမှ ၃၄၀ စတုရန်းမီတာရှိသောရေကူးကန်(၁)ခုအား ပထမထပ်တွင်ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ သဘောထားမှတ်ချက် ပြန်ကြားလာခြင်း မရှိသေးပါ။

(ဃ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ သဘောထားပြန်ကြားလာပါက မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၂၇-၁၀-၂၀၁၅ ရက်စွဲပါစာဖြင့် ကုမ္ပဏီမှ ဝန်ခံကတိပြု တင်ပြထားပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ သဘောထားပြန်ကြားလာပါကမြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ အဆိုပြုချက်အား ပြင်ဆင်တင်ပြပြီးမှသာ ကုမ္ပဏီအား ခွင့်ပြုမိန့် ထုတ်ပေးရန်အပေါ် လမ်းညွှန်မှုခံယူအပ် ပါသည်။

(စ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း စာရင်းတွင် အောက်ပါ မော်တော်ယာဥ်(၁၁)စီး အနက် လူစီးယာဥ်(၉)စီးပါဝင်ကြောင်း စိစစ်တွေ့ရှိရပါ သည်-

| ယာဥ် အမျိုးအစား | အရေ အတွက် | ဈေးနှုန်း US$ | စုစုပေါင်း US$ |
|---|---|---|---|
| Touring Bus (45) Seaters | ၁ | ၁၇၀,၀၀၀ | ၁၇၀,၀၀၀ |
| Mercedes (E.Class -200) | ၃ | ၁၆၀,၀၀၀ | ၄၈၀,၀၀၀ |
| Mercedes (S.Class -500) | ၁ | ၃၄၀,၀၀၀ | ၃၄၀,၀၀၀ |
| Toyota Camry | ၁ | ၁၅,၀၀၀ | ၁၅,၀၀၀ |
| Toyota Alphard | ၁ | ၃၅,၀၀၀ | ၃၅,၀၀၀ |
| Dump Truck 10-20 | ၂ | ၈၀,၀၀၀ | ၁၆၀,၀၀၀ |
| City Bus<br>(25 Seater)for Ferry | ၂ | ၈၀,၀၀၀ | ၁၆၀,၀၀၀ |
| **စုစုပေါင်း** | **၁၁** | **၈၈၀,၀၀၀** | **၁,၃၆၀,၀၀၀** |

အထက်ပါ လူစီးယာဥ် (၉)စီး အားပြည်ပမှ အခွန်အကောက် ပေးဆောင်၍ တင်သွင်းရ မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Myat Min Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်တွင် Basement နှင့် အထပ်(၁၉)ထပ် ရှိ အခန်း(၃၂၂)ခန်းပါ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

နောက်ဆက်တွဲ-က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

M3-1023 19/10

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆. ၉. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၄/ မ-၁၄၉၇ / ၂၀၁၅ (၇၃၁)

၁။ Myat Minn Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၀)၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ်(၃/က)ရှိ မြေ(၁. ၅၀၂)ဧကနှင့် မြေကွက်အမှတ် (၂/က^၁)ရှိ မြေ(၀. ၂၇၅)ဧက၊ မြေကွက်အမှတ်(၂/က^၁)ရှိ မြေ(၁. ၄၂၉)ဧက၊ စုစုပေါင်း မြေ(၃. ၂၀၆)ဧကအနက် မြေ(၂. ၂၀၆)ဧကတွင် Basement နှင့် အထပ်(၁၉)ထပ်၊ အခန်း(၃၂၂)ခန်းပါ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက တည်ဆောက်ရေးကာလတွင် အခြေခံလုပ်သား(၂၀၀)ဦးခန့်၊ စီမံခန့်ခွဲရေးဝန်ထမ်း(၁၀၀)ဦးခန့်နှင့် Operation ကာလတွင် အခြေခံဝန်ထမ်း(၃၀၀)ဦးခန့်၊ ကျွမ်းကျင်အဆင့်ပြည်တွင်း(၁၉၂)ဦး၊ ပြည်ပ(၁၃)ဦး၊ စုစုပေါင်း(၂၀၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၀)၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ်(၃/က)ရှိ မြေ(၁. ၅၀၂)ဧကနှင့် မြေကွက်အမှတ် (၂/က^၁)ရှိ မြေ(၀. ၂၇၅)ဧက၊ မြေကွက်အမှတ် (၂/က^၁)ရှိ မြေ(၁. ၄၂၉)ဧက၊ စုစုပေါင်းမြေ(၃. ၂၀၆)ဧကအနက် မြေ(၂. ၂၀၆)ဧကရှိ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၅. ၁၀. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၉/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၂)အရ Myat Minn Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မရမ်းကုန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myat Minn Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ-ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MB-973
6/10

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၆၄၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၃၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၄ / မ - ၁၄၉၇ / ၂၀၁၅ (၇၂၂)

၁။ Myat Min Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး ၊ မရမ်းကုန်းမြို့နယ် ၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း ၊ (၈)ရပ်ကွက် ၊ မြေတိုင်းရပ်ကွက်အမှတ် (၁၀) ၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ် ၃ / က ရှိ မြေ (၁.၅၀၂) ဧက နှင့် မြေကွက်အမှတ် ၂ / က^၂ ရှိ မြေ (၀.၂၇၅) ဧက ၊ မြေကွက်အမှတ် ၂/က^၃ ရှိ မြေ(၁.၄၂၉)ဧက၊ စုစုပေါင်း (၃.၂၀၆)ဧကအနက် မြေ(၂.၂၀၆)ဧကတွင် Basement နှင့် အထပ် (၁၉) ထပ် ၊ အခန်း ( ၃၂၂ ) ခန်းပါ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ဟိုတယ်တည်ဆောက်ခြင်း လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာမည့် အမှုန်အမွှားများ ၊ ဖုန်မှုန့်များကြောင့် လေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းသုံးစက် ၊ ယာဉ်ယန္တရားများ၏ ဆူညံသံကြောင့် အသံညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း ၊ စွန့်ပစ်ပစ္စည်းများကြောင့် ရေထု ၊ မြေထု ၊ လေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြု စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ဖော်ပြပါ အချက်များကို ထည့်သွင်း ဆောင်ရွက်ရန် လိုအပ်ပါကြောင်း ဖော်ပြအပ်ပါသည်-

(က) ဟိုတယ် တည်ဆောက်ရေး ကာလအတွင်း လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ ရေးဆွဲချမှတ်ဆောင်ရွက်ရန်၊

(ခ) အဆောက်အဦ တည်ဆောက်ခြင်းလုပ်ငန်းကို Eco - Friendly အဖြစ် ဖွံ့ဖြိုးတိုးတက်လာစေရေးအတွက် ရေတို ၊ ရေရှည်ဆောင်ရွက်ရန် နည်းလမ်းများ ပါဝင်သည့် စီမံကိန်းများ နှင့် အစီအမံများ ရေးဆွဲချမှတ်ဆောင်ရွက်ရန်၊

(ဂ) အဆိုပြုစီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် မိလ္လာအညစ်အကြေးစွန့်ထုတ်မှု လုပ်ငန်း စနစ်များ ၊ အညစ်အကြေး သန့်စင်မှုလုပ်ငန်း စနစ်များ ၊ ရေဆိုးပြန်လည် သန့်စင်မှုလုပ်ငန်း စနစ်များ ၊ အစိုင်အခဲ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှု ၊ ရေရယူ အသုံးပြုမှု နှင့် ရေစီမံခန့်ခွဲမှု စနစ်များ၊ လေထု၊ ရေထုညစ်ညမ်းမှု နှင့် အသံ ဆူညံ မှုကာကွယ်ရေး စီမံချက်များ၊ စွမ်းအင်ပြန်လည်အသုံးပြုထိန်းသိမ်းရေးစနစ်များ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(ဃ) အဆိုပြု လုပ်ငန်းရှိ အဆောက်အအုံ မိလ္လာပိုက် ၊ ရေဆိုးစွန့်ထုတ်သည့် ပိုက်များ အတွင်းမှ အများပြည်သူကို ကျန်းမာရေး ထိခိုက်စေနိုင်သော အညစ်အကြေး သို့မဟုတ် အနံ့ဆိုး ထွက်ရှိစေသောအရည်များ စီးထွက်စေခြင်း ၊ စိမ့်ထွက်စေခြင်း သို့မဟုတ် စွန့်ပစ်ခြင်း မပြုရန်၊

(င) လုပ်ငန်းများမှ ထွက်ရှိသော ရေဆိုးများကို ရေနုတ်မြောင်း၊ မြစ်၊ ချောင်း၊ အင်း၊ အိုင် ( သို့ ) ကန်အတွင်းသို့ စွန့်ပစ်ပါက ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ နည်းဥပဒေမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအထိ သန့်စင်ပြီးမှ စွန့် ထုတ်ရန်၊

(စ) ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများမှ ထွက်ရှိလာသော စွန့်ပစ်ပစ္စည်းများအား 3Rs စနစ်ဖြင့် အမှိုက်များအား လျော့နည်းသည်ထက် နည်းအောင် လျှော့ချသော နည်းလမ်း (Reduce)၊ စွန့်ပစ်အမှိုက်များမှစွန့်ပစ်ပစ္စည်းအချို့အား ပြန်လည် အသုံး ပြုမည့် နည်းလမ်း (Reuse) နှင့် ပြန်လည်ပြုပြင်အသုံးပြု၍ရသော ပစ္စည်းများ အား မူလပုံစံအတိုင်း သို့မဟုတ် နောက်ထပ် ပစ္စည်းပုံစံ အသစ်တစ်မျိုးအဖြစ် ပြန်လည်ပြုပြင်သုံးစွဲသော နည်းလမ်း ( Recycle )များအသုံးပြု၍ နေ့စဉ်ထွက် ရှိသည့် အမှိုက်ပမာဏ လျော့နည်းလာစေရေးအတွက် စီမံချက်များ ရေးဆွဲ၍ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဆ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် ဝန်ဆောင်မှု လုပ်ငန်း တစ်ခုချင်းအလိုက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်း နှင့် အစီအမံများ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

၄။ Myat Min Co., Ltd မှ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း

(Environmental Impact Assessment - EIA ) ဆောင်ရွက်ရန် နှင့် EIA အစီရင်ခံစာ တင်ပြရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်ကို အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့်အစီအစဉ်များပါဝင်သော စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ လုပ်ငန်းအစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ ၊ စောင့်ကြပ်ကြည့်ရှုမည့် အစီအစဉ်များ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility-CSR) လုပ်ငန်းများအတွက် နှစ်စဉ်အသားတင်အမြတ်ငွေ၏ (၁ %) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ၊ရန်ကုန်မြို့တော် စည်ပင်သာယာရေးဥပဒေ၊နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်း/ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**



စာအမှတ်၊ ၁၈-ဂ (အုပ်ချုပ်မှု) / နပတ/ ၃၂၅၂
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ **အောက်တိုဘာလ** ၇ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၆-၉-၂၀၁၅) ရက်စွဲပါစာအမှတ် ရက-၄/မ-၁၄၉၇/၂၀၁၅(၇၃၃)

၁။ Myat Min Co., Ltd မှရန်ကုန်တိုင်းဒေသကြီး၊မရမ်းကုန်းမြို့နယ်၊အမှတ်(၃)၊အုတ်ပုံဆိပ်လမ်း၊(၈)ရပ်ကွက်၊မြေတိုင်းရပ်ကွက်အမှတ်(၁၀)၊ကံဘဲ့ရပ်ကွက်၊မြေကွက်အမှတ်(၃/က) ရှိမြေ(၁.၅၀၂)ဧက နှင့်မြေကွက်အမှတ်၂/က² ရှိ မြေ(၀.၂၇၅)ဧက၊မြေကွက်အမှတ် ၂/က¹ ရှိမြေ(၁.၄၂၉) ဧက၊စုစုပေါင်း မြေ(၃.၂၀၆)ဧကအနက် မြေ(၂.၂၀၆)ဧကတွင် Basement နှင့်အထပ်(၁၉)ထပ်၊အခန်း (၃၂၂) ခန်းပါ Pullman Yangon Hotel အမည်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဦးလှဝေမှ အဆိုပြုလွှာတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် ကမ္ဘာလှည့်ခရီးသည်များအပါအဝင် နိုင်ငံခြားခရီးသည်များ၏ လေကြောင်း၊ ရေကြောင်းဖြင့် အဓိကဝင်ထွက်ရာဒေသဖြစ်ခြင်းကြောင့် Myat Min Co., Ltd မှ Pullman Yangon Hotel အမည်ဖြင့်အခန်း (၃၂၂) ခန်းပါ နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း တည်ဆောက်အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းသည် ခရီးသွားလုပ်ငန်းကို အထောက်အကူပြုသည့် စီမံကိန်းတစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည်ရောက်ရှိမှု၊ပြည်တွင်းခရီးသည်တည်းခိုမှုနှင့်ဟိုတယ်နှင့်တည်းခိုရိပ်သာဖွံ့ဖြိုးမှုတို့သည် အချိုးညီရန် လိုအပ်ပါသည်။

၃။ Myat Min Co., Ltd မှဟိုတယ်တည်ဆောက်မည့်မြေနေရာသည် (၃.၂၀၆)ဧကဟု ဖော်ပြထားသော်လည်းအမှန်တကယ်ဆောက်လုပ်မည့်မြေဧကသည်(၂.၂၀၆)ဧကသာရှိသဖြင့် ကျန်ရှိမည့်မြေ(၁)ဧကနှင့်ပတ်သက်၍ မည်သို့ဆောင်ရွက်မည်ကို ရှင်းလင်းစွာတင်ပြရန် လိုအပ်မည် ဖြစ်ပါသည်။

၄။ Myat Min Co., Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Standard Room အခန်း(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၁၂၀)၊ Suite Room အခန်း(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၂၀၀) စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

၅။ ကုမ္ပဏီမှတည်ဆောက်မည့် အဆောက်အဦသည် Basement နှင့် (၁၉)ထပ်အဆောက်အဦဖြစ်သဖြင့် အထပ်မြင့်တည်ဆောက်ခြင်းနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊အထပ်မြင့်အဆောက်အဦတည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့(CQHP)တို့၏ စိစစ်ခွင့်ပြုချက်တို့ ရယူဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ ယာဉ်ရပ်နားရန်နေရာနှင့်ပတ်သက်၍ Basement တွင် (၂၂၄) စီး၊ Ground Floor တွင် (၁၅၃)စီး၊ပထမထပ်တွင် (၁၁၄)စီး၊ဒုတိယထပ်တွင်(၅၂) စီး၊စုစုပေါင်း(၅၄၃)စီး ရပ်နားနိုင်ရန် ဆောင်ရွက်ထားရှိပါကြောင်း တင်ပြထားရှိသဖြင့် တင်ပြချက်နှင့်အညီ ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၇။ Myat Min Co., Ltd မှ ဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက်အသုံးပြုသွားမည့် ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည် ဖြစ်ပါသည်။

၈။ ထို့အပြင် Myat Min Co., Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊အခန်းများဖွဲ့စည်းရေးနှင့်လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေနှင့်လိုင်စင်ဆိုင်ရာအမိန့်များတွင် ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်စံနှုန်းများ(Basic Requirements and Criteria)ထက်မနိမ့်ကျစေရေးအတွက်အဆိုပါဥပဒေ၊အမိန့်များကိုကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လည်းလိုအပ်ပါကြောင်း တင်ပြအပ်ပါသည်။

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ၊မျှော

M3-२०१५
१५/१०

နောက်ဆက်တွဲ-ဃ


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့
အမှတ် ၂၂၈-၂၃၄ ဗိုလ်ချုပ်အောင်ဆန်းလမ်း
**Ph /Fax : 01-245670 / 09-731-89038**


စာအမှတ် O- ၅၀၁ / CQHP / ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ( ၁၂ )ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၆.၉.၂၀၁၅)ရက်စွဲပါစာအမှတ်၊ရက-၄/ ဖ-၁၄၉၇/ ၂၀၁၅(၇၃၅)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် Myat Min Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ်(၁၀)၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ် (၃/က)ရှိ မြေ (၁.၅၀၂) ဧကနှင့် မြေကွက်အမှတ် (၂/က¹)ရှိ မြေ(၀.၂၇၅)ဧက၊ မြေကွက်အမှတ် (၂/က²) ရှိ မြေ(၁.၄၂၉)ဧက၊ စုစုပေါင်းမြေ (၃.၂၀၆)ဧက အနက် မြေ(၂.၂၀၆)ဧကတွင် Basement နှင့် အထပ်(၁၉)ထပ်၊ အခန်း (၃၂၂)ခန်းပါ Pullman Yangon Hotel နှင့်ပတ်သက်၍ အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့ သို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ အဆိုပြုစီမံကိန်းနှင့်ပတ်သတ်၍ ဗိသုကာပိုင်းဆိုင်ရာ ဒီဇိုင်းလိုအပ်ချက်များကို CQHP ၏ Guideline နှင့်အညီ ပြန်လည်ပြင်ဆင်ထားရာ FAR နှင့် Population Density ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသဖြင့် ကန့်ကွက်ရန်မရှိပါ။ သို့သော် BCR မှာ 0.66 ရှိနေ၍ အနည်းငယ်များသည်ဟု သုံးသပ်ပါ သည်။

(ဥက္ကဋ္ဌကိုယ်စား)
(မြင့်သိန်း-အတွင်းရေးမှူး)
အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး
စီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့
CQHP

မိတ္တူကို -

၁။ Chairman၊ Myat Min Co., Ltd။

၂။ ရုံးလက်ခံ။

နောက်ဆက်တွဲ-င

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)း ၆၅၈၁၃၇

☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄/မ-၁၄၉၇/၂၀၁၅ ( ၇၃၄ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၆ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Myat Min Co., Ltd. ၏ ၁၀-၉-၂၀၁၅ ရက်စွဲပါစာအမှတ် ၁၀၆/ ဟိုတယ် /၂၀၁၅

၁။ Myat Min Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊(၈)ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် (၁၀)၊ ကံဘဲ့ရပ်ကွက်၊ မြေကွက်အမှတ် ၃/က ရှိ မြေ (၁.၅၀၂)ဧက နှင့် မြေကွက်အမှတ် ၂/က၂ ရှိ မြေ (၀.၂၇၅) ဧက၊ မြေကွက် အမှတ်၂/က၁ ရှိ မြေ (၁.၄၂၉)ဧက ၊ စုစုပေါင်း မြေ(၃.၂၀၆)ဧက အနက် မြေ(၂.၂၀၆) ဧက တွင် Basement နှင့် အထပ်(၁၉)ထပ်၊ အခန်း(၃၂၂)ခန်းပါ Pullman Yangon Hotel အမည်ဖြင့်နိုင်ငံတကာအဆင့်မီဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးလှဝေ မှ ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုချက် တစ်စုံနှင့်အတူ Layout Plan, Conceptual Drawing, Bill of Quantities, Engineering Drawing တို့အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၃။ Myat Min Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးဖြိုးလှဝေ ၊ ဖုန်းနံပါတ် ၀၉-၅၁၆၇၁၁၅ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

Myat Min Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

**ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်**
**ကံဘဲ့တွင်**

**ကြယ်ငါးပွင့်(Five Star)အဆင့်ရှိ**

**Pullman Yangon Hotel**

**တည်ဆောက်ခြင်းလုပ်ငန်းစီမံကိန်းအား**

**မြတ်မင်းကုမ္ပဏီလီမိတက်**

**မှ**

**လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြချက်**

ရက်စွဲ -၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ (၂၀) ရက်

မိတ္တူ

# MYAT MIN COMPANY LIMITED.

OFFICE:
NO. 31, SHWE HINTHA ROAD, 6½ MILES,
HLAING TOWNSHIP,
YANGON, MYANMAR.

TEL : 09421172284-7
FAX : 01657611
E-mail : myatmincompany@gmail.com

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

စာအမှတ် ၁၀၆/ ဟိုတယ် / ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ (၁၀) ရက်

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့တွင် ကြယ်ငါးပွင့် (Five Star)အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက်ခြင်းလုပ်ငန်း စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ပြခြင်း။

၁။ ကျွန်တော်များ မြတ်မင်းကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ အမှတ် (၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့ မြေတိုင်းရပ်ကွက်၊ အမှတ်(၁၀) ရှိ မြေကွက်အမှတ် ၃/က - ၁. ၅၀၂ဧက၊ နှင့် အမှတ်(၁၈၀) အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ မြေကွက်အမှတ် ၂/က^၂ - ၀. ၂၇၅ဧက၊ မြေကွက်အမှတ် ၂/က^၁ - ၁. ၄၂၉ဧက စုစုပေါင်းဧက (၃. ၂၀၆) မှ ဧက(၂. ၂၀၆ ) တွင် ကြယ်ငါးပွင့်**(Five Star)**အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက်ခြင်းလုပ်ငန်းစီမံကိန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုမိန့်တောင်းခံသည့် ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုဟိုတယ်လုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှစ၍ (၃)နှစ်အတွင်း အပြီးဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၃။ ကျွန်တော်များကုမ္ပဏီအနေဖြင့် အဆိုပြုကြယ်ငါးပွင့်အဆင့်ရှိ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်း အတွက် နိုင်ငံခြားငွေ **US$ (52.20)**သန်းအပါအဝင် စုစုပေါင်းကျပ်သန်း( ၇၉၀၀၀ ) ရင်းနှီးသွားမည်ဖြစ်ပါသည်။

**၄။ ကျွန်တော်များကုမ္ပဏီမှ ဤစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်နိုင်ခြင်းဖြင့် ဒေသခံပြည်သူ များအတွက် အလုပ်အကိုင်ခွင့်အလမ်းများ ပိုမိုဖြစ်ပေါ်လာစေမည့်အပြင် အတတ်ပညာနှင့်ကျွမ်းကျင်မှုဆိုင်ရာ အခွင့်အလမ်း ထွက်ပေါ်လာမည်ဖြစ်ခြင်းကြောင့် ဒေသခံပြည်သူများသည် စီးပွားရေးဖွံ့ဖြိုးတိုးတက်၍ ဆင်းရဲ** နွမ်းပါးမှုကို လျှော့ချနိုင်မည်ဖြစ်ပါသည်။

၅။ သို့ပါ၍ ကျွန်တော်များကုမ္ပဏီမှ ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ကံဘဲ့ မြေတိုင်းရပ်ကွက် အမှတ် (၁၀) ရှိစီမံကိန်းဧရိယာဧက(၂. ၂၀၆ )တွင် ကြယ်ငါးပွင့်(Five Star)အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက်ခြင်း လုပ်ငန်းစီမံကိန်းအား လုပ်ကိုင်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လျှောက်ထား အပ်ပါသည်။

လေးစားစွာဖြင့်

HLAWAI
(Hla Wai)
Chairman
Myat Min Co., Ltd.

မိတ္တူ

လျှို့ဝှက်

# MYAT MIN COMPANY LIMITED.

OFFICE:
NO. 31, SHWE HINTHA ROAD, 6½ MILES,
HLAING TOWNSHIP,
YANGON, MYANMAR.

TEL : 09421172284-7
FAX : 01657611
E-mail : myatmincompany@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ၊ (၇၀)ရက်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၀)အရ ကြယ်ငါးပွင့်(Five Star)အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက်ခြင်းလုပ်ငန်းစီမံကိန်းအတွက် ဆောင်ရွက်ခွင့်ပြုပါရန်နှင့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခွင့်ပြုပေးပါရန် လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ "မြတ်မင်းကုမ္ပဏီလီမိတက်"သည် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့မြေတိုင်းရပ်ကွက်၊ အမှတ်(၁၀)ရှိ မြေကွက်အမှတ် ၃/က-၁. ၅၀၂ဧကနှင့် မြေကွက်အမှတ် ၂/က²-၀. ၂၇၅ဧက၊ မြေကွက်အမှတ် ၂/က°-၁. ၄၂၉ဧက ၊ စုစုပေါင်း စီမံကိန်းဧရိယာ ၃. ၂၀၆ဧကအနက် (၂. ၂၀၆)ဧက တွင် ကြယ်ငါးပွင့်(Five Star)အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက် ခြင်းလုပ်ငန်းစီမံကိန်း ဆောင်ရွက်ခွင့်ရရှိရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်ရရှိရန် လျှောက်ထား သောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုငွေ ကျပ်သန်းပေါင်း(၇၉၀၀၀) ကိုရင်းနှီးမြှုပ်နှံ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ ဤသို့ ကျွန်တော်များကုမ္ပဏီအနေဖြင့် ဤစီမံကိန်း တည်ဆောက်ရေးလုပ်ငန်းအတွက် လိုအပ်သော စက်၊ ယာဉ်ယန္တယားနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပမှတင်သွင်းမည်ဖြစ်ပါသဖြင့် တင်သွင်းမည့်ပစ္စည်းများ အပေါ် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ(၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပေးအပ်ပါရန် လျှောက်ထားအပ်ပါသည်။

လျှို့ဝှက်

လျှို့ဝှက်

**MYAT MIN COMPANY LIMITED.**

*OFFICE:*
*NO. 31, SHWE HINTHA ROAD, 6½ MILES,*
*HLAING TOWNSHIP,*
*YANGON, MYANMAR.*

*TEL : 09421172284-7*
*FAX : 01657611*
*E-mail : myatmincompany@gmail.com*



၄။ ထို့ပြင် Hotel လုပ်ငန်းမှ ရရှိမည့်ဝင်ငွေများအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကို သက်သာခွင့်ပြုနိုင်ရန် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန်နှင့် ဝင်ငွေခွန်များကိုလည်း စီးပွားဖြစ်စတင်သည့် နေ့မှစ၍ (၅)နှစ်အထိကင်းလွတ်ခွင့်ပြုပါရန် အောက်ဖော်ပြပါ အထောက်အထား စာရွက်စာတမ်းများနှင့်အတူ ပူးတွဲတင်ပြ လျှောက်ထားအပ်ပါသည်။

(က) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်။

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့် ငွေရေး၊ ကြေးရေး အထောက်အထားများ

(ဃ) ကုမ္ပဏီနှင့် ပတ်သက်သည့် အထောက်အထားများ

လေးစားစွာဖြင့်

HLAWAI

(Hla Wai)

Chairman

Myat Min Co., Ltd.

လျှို့ဝှက်

# MYAT MIN COMPANY LIMITED.

OFFICE:
NO. 31, SHWE HINTHA ROAD, 6½ MILES,
HLAING TOWNSHIP,
YANGON, MYANMAR.

TEL : 09421172284-7
FAX : 01657611
E-mail : myatmincompany@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ(၂၀) ရက်

အကြောင်းအရာ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း၊

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ " မြတ်မင်းကုမ္ပဏီလီမိတက် " သည် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့ မြေတိုင်းရပ်ကွက် အမှတ်(၁၀) ရှိ စီမံကိန်းဧရိယာဧက( ၂. ၂၀၆ )တွင် ကြယ်ငါးပွင့် (Five Star)အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက်ခြင်းလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိရန် တင်ပြလျှောက်ထားအပ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ပါအချက်အလက်များကို သိရှိလိုက်နာပါမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

(က) မြေငှားရမ်းခြင်း၊ မြေယာပိုင်ဆိုင်မှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ ချမှတ်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ခ) ဤလုပ်ငန်း စီမံကိန်းအတွက် ချေးငွေများ ရယူခဲ့ပါကလည်း ၎င်းချေးငွေများနှင့် ပတ်သက်၍ ကုမ္ပဏီနှင့် ချေးငှားသူတို့သာသက်ဆိုင်ပြီး နိုင်ငံတော်နှင့်ပတ်သက်ခြင်းမရှိ ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း သဘာဝပတ်ဝန်းကျင် အခြေအနေ ထိခိုက်ယုတ်လျော့မှုမရှိအောင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်သည့် အကြံပေး ကျွမ်းကျင်ပညာရှင်များ၏ အကြံဉာဏ်ကိုရယူပြီး စနစ်တကျစီမံချက်များ ရေးဆွဲ၍

လျှို့ဝှက်

လျှို့ဝှက်

# MYAT MIN COMPANY LIMITED.

OFFICE:
NO. 31, SHWE HINTHA ROAD, 6½ MILES,
HLAING TOWNSHIP,
YANGON, MYANMAR.

TEL : 09421172284-7
FAX : 01657611
E-mail : myatmincompany@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်
နေပြည်တော်

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ(၁၀) ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ "မြတ်မင်းကုမ္ပဏီလီမိတက်"သည် ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ အမှတ်(၃)၊ အုတ်ပုံဆိပ်လမ်း၊ (၈)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ကံဘဲ့မြေတိုင်းရပ်ကွက်၊ အမှတ်(၁၀)ရှိ မြေကွက်အမှတ် ၃/က-၁. ၅၀၂၈ဧကနှင့် မြေကွက်အမှတ်၂/က^၂-၀. ၂၇၅ဧက၊ မြေကွက်အမှတ်၂/က^၁-၁. ၄၂၉ဧက ၊ စုစုပေါင်း စီမံကိန်းဧရိယာ ၃. ၂၀၆ဧကအနက် (၂. ၂၀၆)ဧက တွင် ကြယ်ငါးပွင့် **(Five Star)**အဆင့်ရှိ **Pullman Yangon Hotel** တည်ဆောက်ခြင်းလုပ်ငန်းစီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိရန် တင်ပြလျှောက်ထားအပ်ပါသည်။

၂။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ပါအချက်အလက်များကို သိရှိလိုက်နာပါမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

(က) မြေငှားရမ်းခြင်း၊ မြေယာပိုင်ဆိုင်မှုနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ ချမှတ်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ခ) ဤလုပ်ငန်း စီမံကိန်းအတွက် ချေးငွေများ ရယူခဲ့ပါကလည်း ၄င်းချေးငွေများနှင့် ပတ်သက်၍ ကုမ္ပဏီနှင့် ချေးငှားသူတို့သာသက်ဆိုင်ပြီး နိုင်ငံတော်နှင့်ပတ်သက်ခြင်းမရှိ ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း သဘာဝပတ်ဝန်းကျင် အခြေအနေ ထိခိုက်ယုတ်လျော့မှုမရှိအောင် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်သည့် အကြံပေး ကျွမ်းကျင်ပညာရှင်များ၏ အကြံဥာဏ်ကိုရယူပြီး စနစ်တကျစီမံချက်များ ရေးဆွဲ၍

လျှို့ဝှက်

